Myanmar Golden Southwest Group Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့်
**စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း**
**ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း**

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း | | ၆-၁၁-၂၀၁၈ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၉-၁၁-၂၀၁၈ | ၂၃-၁၁-၂၀၁၈ | |
| ၃ | ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှု ကော်မတီမှ အဆိုပြုလွှာ လွှဲပြောင်း ပေးပို့ခြင်း | ၃၀-၁၁-၂၀၁၈ | | ပတ်ဝန်းကျင် သဘောထား အရ EIA ဖြစ်၍ လွှဲပြောင်းပေး ပို့လာခြင်း ဖြစ်ပါသည်။ |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃၉/၂၀၁၈ (၁၀-၁၂-၂၀၁၈) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၁-၁၂-၂၀၁၈ | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၈-၁၂-၂၀၁၈ | ၂-၁-၂၀၁၉ | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉ (၁၁-၁-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၄၃) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Myanmar Golden Southwest Group Company Limited

**လုပ်ငန်းအမျိုးအစား** ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

**PATအကြိမ်/နေ့စွဲ** ၃၉/၂၀၁၈ (၁၀-၁၂-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | ပြည်ပမှ တင်သွင်းမည့် မျိုးကြက်ဥများ စာရင်း ဖော်ပြပေးရန်။ | ✓ | |
| ၂ | လျှပ်စစ်ဓာတ်အား ရယူမှု အစီအစဉ်နှင့် လျှပ်စစ်ဓါတ်အား လိုအပ်ချက်ကို kWh ဖြင့် ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၃ | လုပ်ငန်းဆောင်ရွက်မည့်နေရာ၏ Layout Plan နှင့် အဆောက်အဦ အကျယ် အဝန်းအား ဖော်ပြပေးရန်။ | ✓ | |
| ၄ | ပြည်တွင်း ဝန်ထမ်းများ၏ လစာနှုန်းထားများအား ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၅ | စက်မှုမြေငှားဂရန် ရရှိရေး ဆက်လက် ဆောင်ရွက်ရန်။ | ✓ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Southwest Group Company Limited မှ ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar Golden Southwest Group Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Li Pingwen (တရုတ်) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Yunnan Xi' ernan Feed Company Limited (China) ၉၈ %<br>- Myanmar Golden Wish Company Limited (Myanmar) ၂ % |
| | လုပ်ငန်းအမျိုးအစား | - ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်(၁၁၅)၊ မြောင်းတကာသံမဏိ စက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးကျော်မြသန်း |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေ (၄.၀၅၆) ဧက အနက်မှ မြေ ၂.၃၄၄ ဧက (၉၃၈၅.၈၄ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ် မြေငှားရမ်းခ US$ ၁၀,၉၃၈.၆၇<br>- တစ်နှစ်လျှင်တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း US$ ၁.၁၅၃ |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ကနဦး ၃၀ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၃၀ နှစ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - **US$ ၁.၃၃၆ သန်း (အမေရိကန်ဒေါ်လာ ၁.၃၀၉ သန်း အပါအဝင်)** |

(US$/သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| - ငွေသား | ၀.၄၃၆ | ၀.၀၂၇ | ၀.၄၆၃ |
| - ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်း | ၀.၅၉၀ | - | ၀.၅၉၀ |
| - စက်ပစ္စည်း (ပြည်ပ) | ၀.၂၈၃ | - | ၀.၂၈၃ |
| စုစုပေါင်း | ၁.၃၀၉ | ၀.၀၂၇ | ၁.၃၃၆ |

<table>
<tr><td>၇။</td><td>ဝန်ထမ်းအင်အား</td><td>- ၁၄၂ ဦး</td></tr>
<tr><td></td><td>ပြည်တွင်း</td><td>- ၁၂၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td></td><td>ပြည်ပ</td><td>- ၂၂ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာUS$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၉၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၈။</td><td>ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)</td><td>- ပြည်တွင်း ၁၀၀%
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>ယူနစ်</th><th>အရေအတွက်</th><th>ရောင်းချမည့်ဈေးနှုန်း (ကျပ်)</th></tr>
<tr><td>(က)</td><td>Day Old Chick</td><td>Nos</td><td>၃,၈၀၀,၀၀၀</td><td>၆၀၀</td></tr>
</table></td></tr>
<tr><td>၉။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၂၀၀,၀၀၀ kWh</td></tr>
<tr><td>၁၀။</td><td>အခြားတင်ပြချက်</td><td>- မြေအထောက်အထားအဖြစ် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ စက်မှုလက်မှုလုပ်ငန်းအတွက် ဦးကျော်မြသန်း အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော အထောက်အထား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးကျော်မြသန်း နှင့် Myanmar Golden Southwest Group Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)၊ တရုတ်နိုင်ငံမှ Yunnan Xi'ernan Feed Co., Ltd နှင့် မြန်မာနိုင်ငံမှ Myanmar Golden Wish Co., Ltd. တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement တို့ကိုလည်း တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း US$ ၃၈၃,၅၈၈.၁၅ တန်ဖိုးရှိ စာရင်းများ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက် လိုအပ်သည့် Hatching Eggs အား မလေးရှားနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | -ငွေရေးကြေးရေး အထောက်အထားအဖြစ် Yunnan Xi'ernan Feed Co., Ltd. အမည်ဖြင့် တရုတ်နိုင်ငံရှိ Village Credit Union တွင် တရုတ်ယွမ် ၄,၅၅၃,၀၆၀.၃၁ (US$ ၆၆၈,၂၆၅.၅၅) ရှိကြောင်းနှင့် Myanmar Golden Wish Co., Ltd. အမည်ဖြင့် KBZ Bank တွင် ၂၇-၁၂-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၂၆,၁၅၁,၀၆၁.၁၀ ရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ Location Map ၊ Production Flow နှင့် ရောင်းချမည့် ကြက်သားပေါက် နမူနာပုံများ တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>- တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးမှ အဆိုပြုတင်ပြလာသော လုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲရမည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပြီး ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းစာရင်းရှိ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ US$ ၁.၃၃၆ သန်းသာ ရှိသော်လည်း ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်ခြင်းကြောင့် ရန်ကုန်တိုင်းဒေသကြီး ဦးစီးမှူးရုံးမှ အမှုတွဲအား လွှဲပြောင်းပေးပို့လာခြင်း ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၃၅/၂၀၁၉( ၀၀၄ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Southwest Group Company Limited မှ ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ တရုတ်နိုင်ငံ Yunnan Xi'ernan Feed Company Limited မှ ၉၈% နှင့် မြန်မာနိုင်ငံ Myanmar Golden Wish Company Limited မှ ၂% အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Myanmar Golden Southwest Group Company Limited တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်(၁၁၅)၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၂.၃၄၄)ဧက (၉,၄၈၅.၈၄ စတုရန်းမီတာ)အား ငှားရမ်း၍ ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးကျော်မြသန်း နှင့် Myanmar Golden Southwest Group Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ တရုတ်နိုင်ငံမှ Yunnan Xi'ernan Feed Company Limited နှင့် မြန်မာနိုင်ငံမှ Myanmar Golden Wish Company Limited တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement၊ ဦးကျော်မြသန်း အမည်ဖြင့် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ စက်မှုလက်မှု လုပ်ငန်းအတွက် မြေအသုံးပြုခွင့် ရရှိထားသည့် အထောက်အထားနှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပါသည်။ တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၁၅၃ နှုန်းဖြင့် မြေဧရိယာ ၂.၃၄၄ ဧက အတွက် တစ်နှစ် မြေငှားရမ်းခ US$ ၁၀,၉၃၈.၆၇ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁.၃၃၆ သန်း (အမေရိကန် ဒေါ်လာ ၁.၃၀၉ သန်း အပါအဝင်) ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၀.၄၃၆ | ၀.၀၂၇ | ၀.၄၆၃ |
| ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်း | ၀.၄၉၀ | - | ၀.၄၉၀ |
| စက်ပစ္စည်း ( ပြည်ပ) | ၀.၃၈၃ | - | ၀.၃၈၃ |
| **စုစုပေါင်း** | **၁.၃၀၉** | ၀.၀၂၇ | **၁.၃၃၆** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၂၀)ဦး နှင့် ပြည်ပ ဝန်ထမ်း (၂၂) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၁၄၂ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၈၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာUS$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၉၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ကြက်သားပေါက်များ ထုတ်လုပ်ပြီး ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း(ကျပ်) |
|---|---|---|---|---|
| (က) | Day Old Chick | Nos | ၃,၈၀၀,၀၀၀ | ၆၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးမှ အဆိုပြုတင်ပြလာသော လုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Yunnan Xi'ernan Feed Company Limited အမည်ဖြင့် တရုတ်နိုင်ငံရှိ Village Credit Union တွင် တရုတ်ယွမ် ၄,၅၅၃,၀၆၀.၃၁ (US$ ၆၆၈,၂၆၅.၅၅) ရှိကြောင်း နှင့် Myanmar Golden Wish Company Limited အမည်ဖြင့် KBZ Bank တွင် ၂၇-၁၂-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၂၆,၁၅၁,၀၆၁.၁၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ လုပ်ငန်းခွင်သာယာရေး နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၉/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဃ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည်ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Southwest Group Company Limited မှ ကြက်သားပေါက် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ရန်ကုန်ပဟုင်းဒေသကြီး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

**တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန**
**ရန်ကုန်တိုင်းဒေသကြီး**
**ရန်ကုန်မြို့**
စာအမှတ်၊ ရက-၁/၃/၄(အီးအိုင်အေ)(၁၆၂၀/၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

သို့
အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **Myanmar Golden Southwest Group Company Limited ၏ ကြက်သား ပေါက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၉-၁၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ရကတ/ရနမ-၂/၂၀၁၈ (၆၃၄)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Golden Southwest Group Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မြေကွက်အမှတ် - (၁၁၅) တွင် ကြက်သားပေါက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အပိုဒ် ၇၁၊ ၇၂ (ခ) တို့အရ လက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့် အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် စိစစ်ပြီး ပတ်ဝန်းကျင်ဆိုင်ရာ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး (၁၀) နှစ် (၂) ကြိမ်တိုးချဲ့ လုပ်ကိုင်သွားမည်ဖြစ်ကြောင်းနှင့် သက်တမ်းတိုး (၅) နှစ် (၁) ကြိမ် ဆောင်ရွက်ရမည်ဖြစ်ကာ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) ကြက်အစားအစာများနှင့် တိရိစ္ဆာန်အစားအစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြေဧရိယာ (၂.၃၄၄) ဧက (၉,၄၈၅.၈၄ စတုရန်းမီတာ) ပေါ်တွင် ပေ (၁၆၀ × ၁၂၀) ပတ်လည်ရှိသော ကြက်အကောင်ပေါက်မွေးမြူရေးအဆောက်အဦး (၁) လုံး၊ ပေ (၁၆၀ × ၃၀) ပတ်လည်ရှိသော အလုပ်သမားအဆောင် အဆောက်အဦး (၁) လုံးနှင့် ပေ (၃၅ × ၃၅) စီ ပတ်လည်ရှိသော Generator ထားရှိမည့်အဆောက်အဦး (၁) လုံးနှင့် ဘွိုင်လာထားရှိမည့် အဆောက်အဦ (၁) လုံးစီတို့အား ဆောက်လုပ်၍ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ကြောင်း၊

(ဂ) ကြက်သားပေါက်များအတွက် အစာများကို နှစ်စဉ် မက်ထရစ်တန် (၅၀၀) နှင့် ဆေးဝါးများကို နှစ်စဉ် (၁) မက်ထရစ်တန်တို့အားလည်းကောင်း၊ နှစ်စဉ် ကြက်သားပေါက်အကောင် (၄၀,၀၀၀) နှင့် ထုတ်ပိုးပစ္စည်းများအစရှိသော ကုန်ကြမ်းပစ္စည်းများတို့အားလည်းကောင်း ပြည်တွင်းမှ ရယူအသုံးပြုသွားမည်ဖြစ်ကြောင်းနှင့် စက်ပစ္စည်းများကို တရုတ်နိုင်ငံမှ တင်သွင်း၍ လုပ်ငန်းဆောင်ရွက်သွား မည်ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ကြက်သားပေါက် အကောင်ရေ (၁၁၄,၀၀၀) ကျော်မှ နှစ် (၃၀) အတွင်း ကြက်သားပေါက် အကောင်ရေ (၁၄,၅၁၃,၆၆၈) ခန့်အထိ တိုးမြှင့်ထုတ်လုပ်၍ ပြည်တွင်း၌ ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်သားအနေဖြင့် နိုင်ငံခြားသား ဝန်ထမ်းဦးရေ (၂၂) ဦးနှင့် နိုင်ငံသား (ပြည်တွင်း) ဝန်ထမ်း (၁၂၀) ဦးအထိ တိုးမြှင့်ခန့်အပ်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများအတွက် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်နှင့် လုပ်ငန်းခွင်သက်သာ ချောင်ချိရေးအစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာတာဝန်ခံမှု (Cooperate Social Responsibility - CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း သုံးသပ်တွေ့ရှိရပါသည်-

(က) လုပ်ငန်းဆောင်ရွက်ခြင်း အဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းများထွက်ရှိခြင်းနှင့် သန့်စင်ဆေးကြောခြင်းလုပ်ငန်းမှ ရေဆိုးများထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းခွင်အတွင်း ကြက်အကောင်ပေါက်များနှင့် ၎င်းတို့၏ အညစ်အကြေးများမှ ထွက်ရှိလာသော အနံ့အသက်များကြောင့် အဆောက်အဦ အတွင်း/အပြင် လေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းခွင် ဝန်ထမ်းများ၏ ကျန်းမာရေးထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) အနံ့အသက်များထွက်ရှိခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများနှင့် အသံညစ်ညမ်းမှုများကြောင့် အလုပ်သမားများနှင့် စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Myanmar Golden Southwest Group Company Limited ၏ ကြက်သား ပေါက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Cooperate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်သွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) အစီရင်ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(င) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(စ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ စီမံကိန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမှုရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများအား အလုံအလောက်ထားရှိခြင်း၊ စက်ရုံပတ်ဝန်းကျင်သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊ ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်ရေးအတွက် ပြုပြင်ခြင်း၊ စွန့်ပစ်ပစ္စည်းအစီအမံများ၊ စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင်လေကောင်း လေသန့်ရရှိစေရေး စီမံဆောင်ရွက်ရန်နှင့် စွန့်ပစ်ပစ္စည်းများကို အမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စွန့်ပစ်မှုစနစ်များထားရှိရန်၊

(ဈ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စွန့်ပစ်ရေဆိုးသန့်စင်သည့်စနစ်တည်ထောင်၍ အမျိုးသားပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်းလမ်းညွှန်ချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျသန့်စင်စွန့်ပစ်သွားရန်၊

(ည) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဋ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၂၃/၁၁/၂၀၁၈

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ